ရက်စွဲ။ ၂၇-၁၁-၂၀၁၉

## CNTIC VPower YG1 Limited နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန် ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှ တင်ပြ သည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာ တင်ပြလာခြင်း | - | - | - |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာ အပေါ် အကြောင်းပြန်ကြားခြင်း | - | - | - |
| ၃ | အဆိုပြုချက်အား လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာနမှ တင်ပြလာခြင်း | ၈-၁၁-၂၀၁၉ | | |
| ၄ | အဆိုပြုချက်အား ကုမ္ပဏီမှ တင်ပြ လာ ခြင်း | | ၁၃-၁၁-၂၀၁၉ | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့် အချက်များ အကြောင်းကြား ခြင်း | - | | |
| ၆ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်း အဝေးသို့ တင်ပြခြင်း | ၂၅-၁၁-၂၀၁၉ (၄၀/၂၀၁၉) | | |
| ၇ | အဆိုပြုချက်အား လက်ခံကြောင်း ပြန် ကြားခြင်း | - | | |
| ၈ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ ခြင်း | ၂၇-၁၁-၂၀၁၉ | | |
| ၉ | အဆိုပြုချက်အား ကော်မရှင် အစည်း အဝေးသို့ တင်ပြခြင်း | ၁၉/၂၀၁၉ (၂၉-၁၁-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | ၁၅ ရက် | | |

အကြောင်းအရာ။ ရခိုင်နူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CNTIC VPower YG1 Limited တည်ထောင်ပြီး IPP (BOO) စနစ်ဖြင့် ၄၀၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - CNTIC VPower YG1 Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Lo Siu Yuen |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်နူန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>CV Myanmar YG1 Limited(ဟောင်ကောင်) ၁၀၀% |
| | လုပ်ငန်းအမျိုးအစား | - IPP(BOO)စနစ်ဖြင့် ၄၀၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံးဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနပိုင် သာကေတဓာတ်အားပေးစက်ရုံ၊ သာကေတမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း |
| | မြေအကျယ်အဝန်း | - ၄၀ ဧက |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ် တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၁၂,၁၄၁ |
| | မြေအသုံးပြုခွင့်သက်တမ်း | - ၆ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၅ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - US$ ၃၆၃.၀၇ သန်း |

| ထည့်ဝင်သည့်အမျိုးအစား | စုစုပေါင်း US$(သန်း) |
|---|---|
| ငွေသား | ၉.၆၂ |
| စက်ပစ္စည်းတင်သွင်းမည့် ငွေသားတန်ဖိုး | ၃၅၃.၄၅ |
| **စုစုပေါင်း** | **၃၆၃.၀၇** |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | -ပြည်တွင်း ၁၀၀% |

၈။ ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း

| ထုတ်လုပ်မည့် လျှပ်စစ်ဓာတ်အား (ကီလိုဝပ်နာရီပေါင်း) | တစ်ယူနစ် ဈေးနှုန်း(အခွန်မပါ) (US$) | ရရှိမည့်ဝင်ငွေ US$(သန်း) |
|---|---|---|
| ၁,၇၅၆,၈၀၀,၀၀၀ | ၀.၁၁၆ | ၂၀၄.၁၂၃ |

၉။ ဝန်ထမ်းခန့်ထားမှု

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၂၆၆ ဦး | ၅၇ ဦး |
| အမြင့်ဆုံးလစာ | US$ ၃၂၄ | US$ ၂,၅၄၈ |
| အနိမ့်ဆုံးလစာ | US$ ၁၄၉ | US$ ၂,၁၀၀ |

| | | |
|---|---|---|
| ၁၀။ | ငွေကြေးအထောက်အထား | - ငွေကြေး အထောက်အထားအဖြစ် VPower Group International Holdings Limited မှ Standard Chartered Central Branch (Hong Kong) ၌ ၂၇-၉-၂၀၁၉ ရက်စွဲဖြင့် ဟောင်ကောင်ဒေါ်လာ ၆၆၃,၈၂၅.၀၄ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | CSR | - လူမှုရပ်ရွာ အကျိုးပြုမှု အစီအစဉ်အနေဖြင့် အသားတင်အမြတ်မှ ၂% အား နှစ်စဉ်သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | အခြားတင်ပြချက်များ | - လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of China National Technical Import & Export Corporation, VPower Group Holdlings Ltd., VPower Holdings Limited တို့အကြား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၆ ရက်နေ့ ရက်စွဲဖြင့် ချုပ်ဆိုထားသော Letter of Acceptance (LOA) အား တင်ပြထားပါသည်။<br>- လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of China National Technical Import & Export Corporation, VPower Group Holdings Ltd., VPower Holdings Limited တို့ကြား ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အား ဝယ်ယူရေးစာချုပ် (Power Purchase Agreement) (မူကြမ်း) အား တင်ပြထားပါသည်။ |

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(လ)/ခ-၀၀၉/၂၀၁၉(၅၃၇)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် CNTIC VPower YG1 Limited တည်ထောင်ပြီး IPP(BOO) စနစ်ဖြင့် ၄၀၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာ ခြင်းကိစ္စ**

၁။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဟောင်ကောင်မှ CV Myanmar YG1 Limited သည် မြန်မာနိုင်ငံတွင် CNTIC VPower YG1 Limited တည်ထောင်ပြီး လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီး ဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ သာကေတ ဓာတ်အားပေးစက်ရုံအတွင်းတွင် IPP (BOO) စနစ်ဖြင့် ၄၀၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။ **နောက်ဆက်တွဲ-က**

၂။ အဆိုပြုချက်နှင့်အတူ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေး လုပ်ငန်းနှင့် Consortium of China National Technical Import & Export Corporation, VPower Group Holdlings Ltd., VPower Holdings Limited တို့အကြား ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၆ ရက်နေ့ ရက်စွဲဖြင့် ချုပ်ဆိုထားသော Letter of Acceptance (LOA) နှင့်အတူ လျှပ်စစ်ဓာတ်အားဝယ်ယူရေးစာချုပ်(မူကြမ်း)တို့အား ပူးတွဲတင်ပြ ထားပါသည်။

၃။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလနှင့် ဓာတ်အားပေးစက်ရုံ ငှားရမ်းသည့် ကာလမှာ စီးပွားဖြစ်လုပ်ငန်း စတင်လည်ပတ်သည့်နေ့မှစ၍ လပေါင်း ၆၀ ဖြစ်ပြီးတည်ဆောက်ရေးကာလမှာ တစ်နှစ် ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၃၆၃.၀၇ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | စုစုပေါင်း<br>US$ သန်း |
|---|---|
| ငွေသား | ၉.၆၂ |
| စက်ပစ္စည်းတင်သွင်းမည့် ငွေသားတန်ဖိုး | ၃၅၃.၄၅ |
| **စုစုပေါင်း** | ၃၆၃.၀၇ |

**ကန့်သတ်**

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှဝန်ထမ်း ၂၆၆ ဦး၊ ပြည်ပဝန်ထမ်း ၅၇ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၄၉ နှင့် အမြင့်ဆုံးလစာမှာ US$ ၃၂၄ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂,၁၀၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၂,၅၄၈ ဖြစ်ပါသည်။

၆။ လုပ်ငန်းမှ ထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ လျှပ်စစ်ဓာတ်အား (ပထမနှစ်) တွင် ကီလိုဝပ်နာရီသန်းပေါင်း ၁,၇၅၆.၈၀ ထုတ်လုပ်မည်ဖြစ်ပြီး ဓာတ်အားခ တစ်ယူနစ်လျှင် US$ ၁၂.၂ cents နှုန်းဖြင့် ရောင်းချမည်ဖြစ်ပါသည်။

၇။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် Consortium of China National Technical Import & Export Corporation, VPower Group Holdings Ltd., VPower Holdings Limited တို့ကြား ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အားဝယ်ယူရေးစာချုပ် (မူကြမ်း) အားတင်ပြထားပါသည်။ အဆိုပါ စာချုပ် (မူကြမ်း)ပါ အဓိကအချက်အလက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ကုမ္ပဏီသည် သာကေတ ဓာတ်အားပေးစက်ရုံနှင့် ၂၃၀ ကေဗွီ သာကေတဓာတ်အားခွဲရုံနှင့် ချိတ်ဆက်မည့် ၂၃၀ ကေဗွီ ဓာတ်အားလိုင်းအသစ်၊ ဂတ်စ်ပိုက်လိုင်းအသစ်၊ gas station နှင့် jetty များအား တည်ဆောက်ရမည်ဖြစ်ပါသည်။ **အပိုဒ်-၃-ခ(၂၀)**

(ခ) ကုမ္ပဏီမှ မြေအသုံးပြုခအတွက် တစ်နှစ် တစ်ဧကလျှင် US$ ၁၂,၁၄၁ ပေးချေရမည်ဖြစ်ပါသည်။ **အပိုဒ်-၃-ခ(၂၈)**

(ဂ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းသည် capacity charges fuel charges and other payments ကို ပေးချေသည့်နေ့တွင် မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ သတ်မှတ်သည့်ငွေလဲနှုန်းဖြင့် လစဉ်ပေးချေရမည်ဖြစ်ပါသည်။ **အပိုဒ်-၄(စ)**

(ဃ) လျှပ်စစ်ဓာတ်အားပေးစက်ရုံ ငှားရမ်းသည့်သက်တမ်းမှာ စာချုပ် လက်မှတ် ရေးထိုးသည့်နေ့မှစ၍ အသက်ဝင်မည်ဖြစ်ပြီး စီးပွားဖြစ် လုပ်ငန်း စတင်လည်ပတ်သည့် နေ့မှစ၍ ဖျက်သိမ်းခြင်း သို့မဟုတ် တိုးချဲ့ခြင်း မဆောင်ရွက်ပါက လပေါင်း ၆၀ ဖြစ်သည်။နှစ်ဦးနှစ်ဖက်သဘောတူညီမှုဖြင့်သက်တမ်းတိုးမြှင့်နိုင်သည်။

**အပိုဒ်-၆(ကနှင့်ခ)**

(င) ကုမ္ပဏီသည် LNG ရရှိနိုင်မှုအား တာဝန်ယူဆောင်ရွက်ရမည်ဖြစ်ပါသည်။

**အပိုဒ်၇-ခ(၁)**

၈။ ငွေကြေးအထောက်အထားအဖြစ် VPower Group International Holdings Limited မှ Standard Chartered Central Branch (Hong Kong) ၌ ၂၇-၉-၂၀၁၉ ရက်စွဲဖြင့် ဟောင်ကောင်ဒေါ်လာ ၆၆၃,၈၂၅.၀၄ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းမှ ဝန်ထမ်းများ လူမှုဖူလုံရေးနှင့် သက်သာချောင်ချိမှု ဆောင်ရွက်မည့် အစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) အဆိုပြုစီမံကိန်း၏ ဓာတ်အားပေးစက်ရုံ၊ Floating Storage Unit၊ အခြေခံ အဆောက်အအုံများနှင့် ဆက်စပ်သော စက်ပစ္စည်းများအား စီမံကိန်းပြီးဆုံးပါက ကုမ္ပဏီမှ ပိုင်ဆိုင်မည်ဖြစ်ကြောင်းနှင့် စက်ရုံဝန်းပြင်ပရှိ အသစ်တည်ဆောက်ထား သော ဓာတ်အားပေးစနစ်နှင့် transmission line အား EPGE သို့ အခမဲ့လွှဲပြောင်း ရမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) ကုမ္ပဏီနှင့် ၅ နှစ်စာ ဓာတ်အားဝယ်ယူရေးစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် သက်ဆိုင် ရာဌာနများသို့ စာချုပ်မူကြမ်းပေးပို့၍ သဘောထားမှတ်ချက်များ တောင်းခံခဲ့ပြီး အဆိုပါ သဘောထားမှတ်ချက်များနှင့် အညီ စာချုပ်အားပြင်ဆင်နိုင်ရေး ကုမ္ပဏီနှင့် ညှိနှိုင်း ဆောင်ရွက်လျက်ရှိကြောင်းနှင့် Gas Engine နှင့်ဆက်စပ်ပစ္စည်းများ အချိန်မီ တင်သွင်းနိုင်ရေးအတွက် လိုအပ်သလို ကူညီဆောင်ရွက်ပေးနိုင်ပါရန် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ ၂၀၁၉ခုနှစ် နိုဝင်ဘာလ ၁၈ ရက်နေ့ရက်စွဲပါစာဖြင့် တင်ပြ ထားပါသည်။ **နောက်ဆက်တွဲ-ခ**

**ဆုံးဖြတ်ရန်အချက်**

၁၀။ ရခိုင်ပြည်နယ်ပြည်နယ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် CNTIC VPower YG1 Limited မှ IPP (BOO) စနစ်ဖြင့် ၄၀၀ မဂ္ဂါဝပ် LNG စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ် ဓာတ်အား ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက် ခွင့်ပြု ပါရန် အဆိုပြု ချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ-က

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ MOEE- ၂/(၁၅)/(c)/(VPower)(၁၈၄၇၉ ) /၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ နိုဝင်ဘာ လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **CNTIC VPOWER YG1 LIMITED မှ သာကေတတွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် ဓာတ်အားပေးစက်ရုံ တည်ဆောက်ခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် လျှောက်ထားခြင်းအား ထောက်ခံတင်ပြခြင်းကိစ္စ**

၁။ ၂၀၂၀ ခုနှစ်၊ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် နိုင်ငံတော်၏ လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို အချိန်မီဖြည့်ဆည်းပေးနိုင်ရန် ဓာတ်အားပေးစက်ရုံစီမံကိန်း(၅)ခုကို Independent Power Producer, Build Operate Own (IPP/BOO) စနစ်ဖြင့် (၅)နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဝယ်ယူနိုင်ရန်အတွက် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၂/၂၀၁၉)၏ သဘောတူ ဆုံးဖြတ်ချက်ဖြင့် ၂၈-၆-၂၀၁၉ ရက်မှစ၍ တင်ဒါခေါ်ဆိုဆောင်ရွက်ခဲ့ပါသည်။

၂။ အထက်ပါ စီမံကိန်း(၅)ခုအနက် သာကေတ (၄၀၀) မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် တစ်ယူနစ် စုစုပေါင်း ဈေးနှုန်းအနည်းဆုံးဖြင့် ဆောင်ရွက်မည့် The Consortium of CNTIC and VPower အား တင်ဒါအောင်မြင်သူအဖြစ် သတ်မှတ်၍ စီမံကိန်း စတင်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေး Letter of Acceptance (LOA) ကို ၆-၉-၂၀၁၉ ရက်နေ့တွင် ထုတ်ပေးခဲ့ပြီး အဆိုပါကုမ္ပဏီအဖွဲ့မှ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

၃။ ထို့အပြင် The Consortium of CNTIC and VPower သည် China National Technical Import & Export Corporation, VPower Group Holdings Ltd. နှင့် VPower Holdings Ltd ကုမ္ပဏီများဖြင့် ဖွဲ့စည်းထားပြီး၊ ဓာတ်အားဝယ်ယူရေးစာချုပ်ချုပ်ဆိုနိုင်ရေးနှင့် ဓာတ်အားပေးစက်ရုံတည်ဆောက် ခြင်း၊ မောင်းနှင်ခြင်းများ ဆောင်ရွက်နိုင်ရန် (၃-၁၀-၂၀၁၉)ရက်နေ့တွင် CNTIC VPOWER YG1 LIMITED အမည်ဖြင့် Project Company တည်ထောင်ခဲ့ပါသည်။

၄။ ထို့နောက် အဆိုပါစီမံကိန်းအတွက် ဓာတ်အားဝယ်ယူရေး သဘောတူစာချုပ်ချုပ်ဆိုနိုင်ရေး ဌာနနှင့်ကုမ္ပဏီတို့အကြားနှစ်ဖက်သဘောတူညီပြီးဖြစ်သည့် စာချုပ်မူကြမ်းများအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ

ကန့်သတ်

နိုင်ငံတော်ဗဟိုဘဏ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်များသို့ပေးပို့၍ သဘောထားမှတ်ချက် တောင်းခံထားပါသည်။

၅။ သို့ဖြစ်ပါ၍ CNTIC VPOWER YG1 LIMITED မှ ဓာတ်အားပေးစက်ရုံ တည်ဆောက်ပြီး မြန်မာနိုင်ငံအတွင်း လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားမှုအပေါ် လိုအပ်သလိုကူညီဆောင်ရွက်ပေးနိုင်ပါရန် ညွှန်ကြားချက်အရ မေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက်။ CNTIC VPOWER YG1 LIMITED ၏ သာကေတ ဓာတ်အားပေးစက်ရုံ စီမံကိန်းအတွက် အဆိုပြုတင်ပြချက် - (၁) အုပ်

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -
လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း
ရုံးလက်ခံ/မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

| | |
|---|---|
| ဝင်စာအမှတ် | M4-1506 |
| ရက်စွဲ | 20.11.2019 |

စာအမှတ်၊MOEE-၂/(၁၅)/(သာကေတ)/(၁၈၈၆၈)/၂၀၁၉

ရက်စွဲ ၊၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ရန်ကုန်တိုင်းဒေသကြီး၊ သာကေတမြို့နယ်တွင်တည်ဆောက်မည့် ၄၀၀ မဂ္ဂါဝပ် သာကေတဓာတ်အားပေးစက်ရုံအတွက် CNTIC VPower YG1 Limited မှ Gas Engine များနှင့်ဆက်စပ်ပစ္စည်းများ အချိန်မီတင်သွင်းနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် ထောက်ခံတင်ပြခြင်း ကိစ္စ

ရည်ညွှန်းချက် ။ ဤဝန်ကြီးဌာန၏၈-၁၁-၂၀၁၉ ရက်စွဲပါစာအမှတ်-MOEE-၂/(၁၅)/(င)/ (VPower) (၁၈၄၇၉)/၂၀၁၉

၁။ ရန်ကုန်တိုင်းဒေသကြီး ၊ သာကေတမြို့နယ်တွင် ၄၀၀ မဂ္ဂါဝပ် သာကေတဓာတ်အားပေးစက်ရုံအား CNTIC VPower YG1 Limited မှ တည်ဆောက်ပြီး မြန်မာနိုင်ငံအတွင်း လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချရန်အတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားမှုအပေါ် လိုအပ်သလို ကူညီဆောင်ရွက်ပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံခဲ့ပါသည်။

၂။ အဆိုပါကုမ္ပဏီနှင့်(၅)နှစ်စာ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement) ချုပ်ဆိုနိုင်ရေးအတွက် သက်ဆိုင်ရာဌာနများသို့ စာချုပ်မူကြမ်းပေးပို့၍ သဘောထားမှတ်ချက်များ တောင်းခံခဲ့ပြီး၊ အဆိုပါသဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အားပြင်ဆင်နိုင်ရေး ကုမ္ပဏီနှင့် ညှိနှိုင်းဆောင်ရွက်လျက် ရှိပါသည်။

၃။ ဤဝန်ကြီးဌာနမှ CNTIC VPower YG1 Limited သို့ Letter of Acceptance (LOA) ထုတ်ပေးခဲ့သော ၆-၉-၂၀၁၉ ရက်နေ့မှစ၍ ကုမ္ပဏီသည်စီမံကိန်းလုပ်ငန်းများကို စတင်အကောင်အထည်ဖော်ဆောင်ရွက်ခဲ့ရာ လက်ရှိတွင် စီမံကိန်းမြေနေရာအား ရှင်းလင်းပြီးစီးပြီဖြစ်၍ Gas Engine များတည်ဆောက်နိုင်ရန် Civil Works များဆောင်ရွက်လျက်ရှိပါသည်။ ထို့အပြင် စီမံကိန်းတွင် တပ်ဆင်အသုံးပြုမည့် ပူးတွဲစာရင်းပါ Gas Engines နှင့်ဆက်စပ်ပစ္စည်းများမှာ မြန်မာနိုင်ငံသို့တင်သွင်းရန် အဆင်သင့်ဖြစ်နေပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြု

မိန့်ထုတ်ပေးရရှိပါက မြန်မာနိုင်ငံသို့ အလျင်အမြန် ပို့ဆောင်၍ စီမံကိန်းတွင် တပ်ဆင်တည်ဆောက်သွားမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ သာကေတမြို့နယ်တွင် တည်ဆောက်မည့် ၄၀၀ မဂ္ဂါဝပ် သာကေတဓာတ်အားပေးစက်ရုံအတွက် လုပ်ငန်းဆောက်ရွက်မည့် CNTIC VPower YG1 Limited မှ Gas Engines နှင့် ဆက်စပ် ပစ္စည်းများအချိန်မီတင်သွင်းနိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရေး လိုအပ်သလို ကူညီဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

**ပူးတွဲ** ။ သာကေတဓာတ်အားပေးစက်ရုံအတွက်တင်သွင်းမည့်ပစ္စည်းစာရင်း

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

# Annex 3 - List of imported Machinery & Equipment

**CNTIC VPOWER YGI LIMITED**

**Proposal of the Promoter to make Foreign Investment in the Republic of the Union of Myanmar**

*Unit: USD unless otherwise stated*

| No. | Hscode | Description of Goods | UnitCode | Unit Price | Quantity | Value (USD) |
|---|---|---|---|---|---|---|
| 1 | 8502XXXX | 20FT/40FT HQ Containerized 2026kw Gas Generator sets | Set | 855,000.00 | 79 | 67,545,000.00 |
| 2 | 8502XXXX | 20FT/40FT HQ Containerized 1562kw Gas Generator Sets | Set | 713,000.00 | 11 | 7,843,000.00 |
| 3 | 8502XXXX | 20FT HQ Containerized 1169kw Gas Generator Sets | Set | 534,000.00 | 10 | 5,340,000.00 |
| 4 | 8502XXXX | 20FT HQ Containerized 1562kw Gas Generator Sets | Set | 713,000.00 | 81 | 57,753,000.00 |
| 5 | 8407XXXX | 18810kw Gas Generator Sets (Engine and Accessories) | Set | 9,867,000.00 | 8 | 78,936,000.00 |
| 6 | 8516XXXX | 18810kw Gas Generator Sets (Radiator) | Set | 380,000.00 | 8 | 3,040,000.00 |
| 7 | 8412XXXXX | 18810kw Gas Generator Sets (EG Silencer) | Set | 78,000.00 | 8 | 624,000.00 |
| 8 | 8421XXXX | 18810kw Gas Generator Sets (Charge Air Filter) | Set | 86,000.00 | 8 | 688,000.00 |
| 9 | 8501XXXX | 18810kw Gas Generator Sets (Generator 18471kw) | Set | 1,850,000.00 | 8 | 14,800,000.00 |
| 10 | 8503XXXX | 18810kw Gas Generator Sets Auxiliary Equipment | Set | 1,620,000.00 | 8 | 12,960,000.00 |
| 11 | 8502XXXX | Black Start Diesel Generator Sets | Set | 250,000.00 | 10 | 2,500,000.00 |
| 12 | 8503XXXX | Generator Sets Auxiliary Equipment (Pump module, Muffler,Pressure Regulating Valve Assembly, Fan Assembly, Rain hat, Exhaust pipe,Ladder,Air vent) | Set | 58,000.00 | 181 | 10,498,000.00 |
| 13 | 8502XXXX | ORC House Power Generator | Set | 138,000.00 | 160 | 22,080,000.00 |
| 14 | 8503XXXX | Exhaust Gas Heat Exchanger | Set | 22,000.00 | 160 | 3,520,000.00 |
| 15 | 8503XXXX | Stainless steel pipeline (for ORC House Power Generator) | Set | 5,000.00 | 160 | 800,000.00 |
| 16 | 8504XXXX | Oil-immersed 40MVA 230/33KV Transformer | Set | 500,000.00 | 3 | 1,500,000.00 |
| 17 | 8504XXXX | Oil-immersed 65MVA 230/33KV Transformer | Set | 810,000.00 | 2 | 1,620,000.00 |
| 18 | 8504XXXX | Oil-immersed 90MVA 230/11KV Transformer | Set | 1,125,000.00 | 2 | 2,250,000.00 |
| 19 | 8504XXXX | Oil-immersed 3.6MVA 0.4/0.6/11/33KV Transformer | Set | 100,000.00 | 57 | 5,700,000.00 |
| 20 | 8504XXXX | Oil-immersed 2.5MVA 0.4/0.6/11/33KV Transformer | Set | 68,000.00 | 23 | 1,564,000.00 |
| 21 | 8516XXXX | Radiator | Set | 40,000.00 | 185 | 7,400,000.00 |

| | | | | | | |
|---|---|---|---|---|---|---|
| 22 | 8537XXXXXX | Switchgear | Lot | 4,880,000.00 | 1 | 4,880,000.00 |
| 23 | 8535XXXXXX | Isolation Switch | Set | 299,500.00 | 8 | 2,396,000.00 |
| 24 | 8537XXXXXX | Low Voltage Control Panel | Lot | 2,087,000.00 | 1 | 2,087,000.00 |
| 25 | 8503XXXX | Gas Meter and Regulator Module | Set | 800,000.00 | 1 | 800,000.00 |
| 26 | 8537XXXX | 230kV Over Head Line System Euipment | Lot | 2,722,000.00 | 1 | 2,722,000.00 |
| 27 | 8543XXXX | Central Control System | Lot | 268,000.00 | 1 | 268,000.00 |
| 28 | 8544XXXXXX | 300 sqmm 35KV Medium Voltage Power cables | Meter | 36.00 | 13000 | 468,000.00 |
| 29 | 8544XXXXXX | 300 sqmm 10KV Medium Voltage Power Cables | Meter | 34.00 | 40000 | 1,360,000.00 |
| 30 | 8544XXXXXX | 70 sqmm 10KV Medium Voltage Power Cables | Meter | 14.52 | 12500 | 181,500.00 |
| 31 | 8544XXXXXX | 0.6/1KV Low Voltage Power Cables | Meter | 4.00 | 3000 | 12,000.00 |
| 32 | 8544XXXXXX | 300 sqmm Low Voltage Power Cables | Meter | 25.20 | 39000 | 982,800.00 |
| 33 | 8544XXXXXX | 3x70 sqmm Low Voltage Power Cables | Meter | 21.64 | 21000 | 454,440.00 |
| 34 | 8544XXXXXX | 95 sqmm Low Voltage Power Cables | Meter | 9.60 | 8000 | 76,800.00 |
| 35 | 8544XXXXXX | Two-core Shielding Wire | Meter | 0.48 | 38430 | 18,446.40 |
| 36 | 8544XXXXXX | 10X1 sqmm Low Voltage Power Cables | Meter | 1.80 | 9500 | 17,100.00 |
| 37 | 8544XXXXXX | 6X1 sqmm Low Voltage Power Cables | Meter | 0.96 | 12000 | 11,520.00 |
| 38 | 8544XXXXXX | 1.5 sqmm Low Voltage Power Cables | Meter | 0.36 | 13000 | 4,680.00 |
| 39 | 8544XXXXXX | 2.5 sqmm Low Voltage Power Cables | Meter | 0.36 | 25500 | 9,180.00 |
| 40 | 7609XXXXX | Cable Ladder | Lot | 481,200.00 | 1 | 481,200.00 |
| 41 | 8413XXXX | Fire Systems with Accessories | Lot | 124,500.00 | 1 | 124,500.00 |
| 42 | 8427XXXX | Forklift | Set | 42,000.00 | 1 | 42,000.00 |
| 43 | 7304XXXX | Gas Pipe | Lot | 274,900.00 | 1 | 274,900.00 |
| 44 | 8426XXXX | Electric Single Beam Crane | Set | 16,700.00 | 1 | 16,700.00 |
| 45 | 8458XXXX | Lathe | Set | 10,220.00 | 1 | 10,220.00 |
| 46 | 9405XXXX | Street lamp | Lot | 51,800.00 | 1 | 51,800.00 |
| 47 | 8535XXXX | Lightning Arrester | Lot | 50,400.00 | 1 | 50,400.00 |

| | | | | | | |
|---|---|---|---|---|---|---|
| 48 | 8503XXXX | Equipment and Installation Accessories For Power Plant Install Tools (Wrench ,Circuit Breakers, Electric Welder , Valves , Screw , Pipes, High Pressure Cleaning Machine) | Lot | 1,020,000.00 | 1 | 1,020,000.00 |
| 49 | 7304XXXX | I-beam and Iron plate | Lot | 411,500.00 | 1 | 411,500.00 |
| 50 | 7309XXXX | 20FT HQ SOC Container | Unit | 12,500.00 | 12 | 150,000.00 |
| 51 | 7309XXXX | 40FT HQ SOC Container | Unit | 14,500.00 | 59 | 855,500.00 |
| 52 | 7309XXXX | 40FT HQ Containerized Tank | Unit | 11,000.00 | 8 | 88,000.00 |
| 53 | TBC | Equipment, Power Plant Auxiliary Equipment, Installation Accessories for Power Plant and Engineering Vehicle | Lot | 24,163,681 | 1 | 24,163,681 |
| | | **Total** | | | | **353,450,868** |

Remarks: Item 53 will be clearly itemised with HSCode, Description, Quantity and Price upon confirmation.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

စာအမှတ်၊ ၄၀၂ / ဥမရ - ပစအ / ၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ နိုဝင်ဘာလ ၂၆ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သာကေတ ၄၀၀ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံအတွက် ဓာတ်အားဝယ်ယူရေး စာချုပ် ချုပ်ဆိုနိုင်ရေး ဆောင်ရွက်ထားရှိမှုအခြေအနေအား တင်ပြခြင်း ကိစ္စ**

၁။ သာကေတ ၄၀၀ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံစီမံကိန်းလုပ်ငန်းများ စတင်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် တင်ဒါအောင်မြင်သော Consortium of China National Technical Import & Export Corporation, VPower Group Holdings Ltd and VPower Holdings Ltd အား လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ Letter of Acceptance (LOA) ကို ၆-၉-၂၀၁၉ ရက်နေ့တွင် ထုတ်ပေးခဲ့ပြီး စီမံကိန်းလုပ်ငန်းများ စတင်ဆောင်ရွက်စေခဲ့ပါသည်။

၂။ အဆိုပါစီမံကိန်းအတွက် ဓာတ်အားဝယ်ယူရေး သဘောတူစာချုပ် ချုပ်ဆိုနိုင်ရေး ဌာနနှင့် ကုမ္ပဏီတို့အကြား နှစ်ဖက်သဘောတူညီပြီးဖြစ်သည့် စာချုပ်မူကြမ်းများအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်များသို့ ပေးပို့၍ (နောက်ဆက်တွဲ - က) ပါအတိုင်း သဘောထားမှတ်ချက်တောင်းခံခဲ့ပါသည်။

၃။ အဆိုပါ စာချုပ်မူကြမ်းအပေါ် စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်များမှ (နောက်ဆက်တွဲ- ခ) ပါအတိုင်း သဘောထား မှတ်ချက်များ ပြန်ကြားလာပြီး အဆိုပါသဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အား ပြန်လည် ပြင်ဆင်ချုပ်ဆိုနိုင်ရေး ကုမ္ပဏီနှင့် ညှိနှိုင်းဆွေးနွေးလျက်ရှိပါသည်။

၄။ သက်ဆိုင်ရာဌာနများ၏ သဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အား ပြန်လည်ပြင်ဆင်ပြီးပါက ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့သို့ ဆက်လက်တင်ပြ၍ လက်မှတ်ရေးထိုး ချုပ်ဆိုသွားမည်ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ သာကေတဓာတ်အားပေးစက်ရုံဝန်းအတွင်း တည်ဆောက်မည့် ၄၀၀ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံအတွက် ဓာတ်အားဝယ်ယူရေးစာချုပ်ချုပ်ဆိုနိုင်ရေး ဆောင်ရွက်ထားရှိမှု အခြေအနေအား သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

၂၈၊၁၁၊၂၀၁၉

သန်းနိုင်ဦး

ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူကို -

ရုံးလက်ခံ/မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

စာအမှတ်၊ ၄၀၇ / ဥမရ - ပစအ / ၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ နိုဝင်ဘာလ ၂၆ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **ကျောက်ဖြူ ၁၃၅ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံအတွက် ဓာတ်အားဝယ်ယူရေး စာချုပ် ချုပ်ဆိုနိုင်ရေး ဆောင်ရွက်ထားရှိမှုအခြေအနေအား တင်ပြခြင်း ကိစ္စ**

၁။ ကျောက်ဖြူ ၁၃၅ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံစီမံကိန်းလုပ်ငန်းများ စတင်အကောင်အထည် ဖော် ဆောင်ရွက်နိုင်ရန် တင်ဒါအောင်မြင်သော Consortium of China National Technical Import & Export Corporation, VPower Group Holdings Ltd and VPower Holdings Ltd အား လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ Letter of Acceptance (LOA) ကို ၆-၉-၂၀၁၉ ရက်နေ့တွင် ထုတ်ပေးခဲ့ပြီး စီမံကိန်း လုပ်ငန်းများ စတင်ဆောင်ရွက်စေခဲ့ပါသည်။

၂။ အဆိုပါစီမံကိန်းအတွက် ဓာတ်အားဝယ်ယူရေး သဘောတူစာချုပ် ချုပ်ဆိုနိုင်ရေး ဌာနနှင့် ကုမ္ပဏီတို့အကြား နှစ်ဖက်သဘောတူညီပြီးဖြစ်သည့် စာချုပ်မူကြမ်းများအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့်ဘဏ္ဍာရေး ဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်များသို့ ပေးပို့၍ (နောက်ဆက်တွဲ - က) ပါအတိုင်း သဘောထား မှတ်ချက်တောင်းခံခဲ့ပါသည်။

၃။ အဆိုပါ စာချုပ်မူကြမ်းအပေါ် စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်များမှ (နောက်ဆက်တွဲ- ခ) ပါအတိုင်း သဘောထား မှတ်ချက်များ ပြန်ကြားလာပြီး အဆိုပါသဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အား ပြန်လည် ပြင်ဆင်ချုပ်ဆိုနိုင်ရေး ကုမ္ပဏီနှင့် ညှိနှိုင်းဆွေးနွေးလျက်ရှိပါသည်။

၄။ သက်ဆိုင်ရာဌာနများ၏ သဘောထားမှတ်ချက်များနှင့်အညီ စာချုပ်အား ပြန်လည်ပြင်ဆင် ပြီးပါက ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့သို့ ဆက်လက်တင်ပြ၍ လက်မှတ်ရေးထိုး ချုပ်ဆိုသွားမည်ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ရခိုင်ပြည်နယ်၊ ကျောက်ဖြူမြို့နယ်တွင် တည်ဆောက်မည့် ၁၅၀ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံအတွက် ဓာတ်အားဝယ်ယူရေးစာချုပ် ချုပ်ဆိုနိုင်ရေး ဆောင်ရွက်ထားရှိမှု အခြေအနေအား သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

သန်းနိုင်ဦး
ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူကို -

ရုံးလက်ခံ/မျှော

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

၂၃၄၆
၂-၁၀-၁၉

စာအမှတ်၊ MOEE-၂/(၅)/(င)/(ကျောက်ဖြူ)/(၁၆၂၂၄)/၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ စက်တင်ဘာ လ ၃၀ ရက်

သို့

**ပြည်ထောင်စုရှေ့နေချုပ်ရုံး**

အကြောင်းအရာ။ **ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

၁။ ၂၀၂၀ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းနိုင်ရန် IPP/BOO စနစ်ဖြင့် အချိန်တိုအတွင်း တပ်ဆင်တည်ဆောက်နိုင်သော Gas Engine/ Power barge/ Power Ship များဖြင့် စီမံကိန်း (၅)ခု စုစုပေါင်းဓာတ်အား (၁၀၄၀) မဂ္ဂါဝပ်ကို မြန်မာကျပ်ငွေဖြင့် ၅ နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဓာတ်အားဝယ်ယူနိုင်ရေးတင်ဒါခေါ်ယူခွင့်ပြုပါရန်ကိစ္စကို ၂၀-၆-၂၀၁၉ ရက်တွင် ကျင်းပပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၉)မှ သဘောတူပါကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ စီမံကိန်းများအတွက် ၂၈-၆-၂၀၁၉ ရက်တွင် တင်ဒါခေါ်ဆိုခဲ့ရာ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. မှ တင်ဒါအောင်မြင်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်ခဲ့သည့် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. တို့အကြား နှစ်ဘက်ညှိနှိုင်းပြုစုထားပြီးဖြစ်သည့် ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase

Agreement – PPA ) မူကြမ်း အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက် ။ Power Purchase Agreement (PPA) မူကြမ်း (၃) အုပ်

ပြည်ထောင်စုဝန်ကြီး ([illegible])

(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ MOEE-၂/(၂၄)/(င)/(ကျောက်ဖြူ)/(၁၆၂၂၃)/၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ စက်တင်ဘာ လ ၃၀ ရက်

သို့

ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး

အကြောင်းအရာ။ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

၁။ ၂၀၂၀ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းနိုင်ရန် IPP/BOO စနစ်ဖြင့် အချိန်တိုအတွင်း တပ်ဆင်တည်ဆောက်နိုင်သော Gas Engine/ Power barge/ Power Ship များဖြင့် စီမံကိန်း (၅)ခု စုစုပေါင်းဓာတ်အား (၁၀၄၀) မဂ္ဂါဝပ်ကို မြန်မာကျပ်ငွေဖြင့် ၅ နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဓာတ်အားဝယ်ယူနိုင်ရေး တင်ဒါခေါ်ယူခွင့်ပြုပါရန်ကိစ္စကို ၂၀-၆-၂၀၁၉ ရက်တွင် ကျင်းပပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၉) မှ သဘောတူပါကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ စီမံကိန်းများအတွက် ၂၈-၆-၂၀၁၉ ရက်တွင် တင်ဒါခေါ်ဆိုခဲ့ရာ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. မှ တင်ဒါအောင်မြင်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်ခဲ့သည့် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. တို့အကြား နှစ်ဘက်ညှိနှိုင်းပြုစုထားပြီးဖြစ်သည့် ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase

Agreement - PPA ) မူကြမ်း အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာ ရပ်ခံအပ်ပါသည်။

ပူးတွဲလျက် ။ Power Purchase Agreement (PPA) မူကြမ်း (၁) အုပ်

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ် ၂၃၄၁
ရက်စွဲ ၂.၁၀.၁၉

စာအမှတ်၊ MOEE-၂/(၁၇)/(င)/(ကျောက်ဖြူ)/(၁၆၂၁၉ )/၂၀၁၉

GT/MW/1110 ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ စက်တင်ဘာ လ ၃၀ ရက်

သို့

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

၁။ ၂၀၂၀ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းနိုင်ရန် IPP/BOO စနစ်ဖြင့် အချိန်တိုအတွင်း တပ်ဆင်တည်ဆောက်နိုင်သော Gas Engine/ Power barge/ Power Ship များဖြင့် စီမံကိန်း (၅)ခု စုစုပေါင်းဓာတ်အား (၁၀၄၀) မဂ္ဂါဝပ်ကို မြန်မာကျပ်ငွေဖြင့် ၅ နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဓာတ်အားဝယ်ယူနိုင်ရေး တင်ဒါခေါ်ယူခွင့်ပြုပါရန်ကိစ္စကို ၂၀-၆-၂၀၁၉ ရက်တွင် ကျင်းပပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၉)မှ သဘောတူပါကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ စီမံကိန်းများအတွက် ၂၈-၆-၂၀၁၉ ရက်တွင် တင်ဒါခေါ်ဆိုခဲ့ရာ ကျောက်ဖြူ ဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. မှ တင်ဒါ အောင်မြင်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်ခဲ့သည့် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. တို့အကြား နှစ်ဘက်ညှိနှိုင်းပြုစုထားပြီးဖြစ်သည့် ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase

လျှို့ဝှက်

Agreement – PPA ) မူကြမ်း အပေါ် သဘောထားမှတ်ချက်ပြန်ကြား ပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက် ။ Power Purchase Agreement (PPA) မူကြမ်း (၁) အုပ်

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ



Policy9\G\MOEE / Form 2019\MOEE-LH(Standard)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ MOEE-၂/(၁၈)/(င)/(ကျောက်ဖြူ)/(၁၆၂၂၀)/၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ စက်တင်ဘာ လ ၂၀ ရက်

သို့

**စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

၁။ ၂၀၂၀ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းနိုင်ရန် IPP/BOO စနစ်ဖြင့် အချိန်တိုအတွင်း တပ်ဆင်တည်ဆောက်နိုင်သော Gas Engine/ Power barge/ Power Ship များဖြင့် စီမံကိန်း (၅)ခု စုစုပေါင်းဓာတ်အား (၁၀၄၀) မဂ္ဂါဝပ်ကို မြန်မာကျပ်ငွေဖြင့် ၅ နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဓာတ်အားဝယ်ယူနိုင်ရေး တင်ဒါခေါ်ယူခွင့်ပြုပါရန်ကိစ္စကို ၂၀-၆-၂၀၁၉ ရက်တွင် ကျင်းပပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၉) မှ သဘောတူပါကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ စီမံကိန်းများအတွက် ၂၈-၆-၂၀၁၉ ရက်တွင် တင်ဒါခေါ်ဆိုခဲ့ရာ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. မှ တင်ဒါအောင်မြင်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်ခဲ့သည့် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. တို့အကြား နှစ်ဘက်ညှိနှိုင်းပြုစုထားပြီးဖြစ်သည့် ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase

လျှို့ဝှက်

Agreement - PPA ) မူကြမ်း အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက် ။ Power Purchase Agreement (PPA) မူကြမ်း (၇) အုပ်

ပြည်ထောင်စုဝန်ကြီး (လက်မှတ်)
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

ရုံးလက်ခံ/ မျှောစာတွဲ

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

၂၉၄၄
၂.၁၀.၁၉

စာအမှတ်၊ MOEE-၂/(၅၁)/(င)/(ကျောက်ဖြူ)/(၁၆၂၂၂ )/၂၀၁၉

GT/MW/IIW ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ စက်တင်ဘာ လ ၂၀ ရက်

သို့

ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

၁။ ၂၀၂၀ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းနိုင်ရန် IPP/BOO စနစ်ဖြင့် အချိန်တိုအတွင်း တပ်ဆင်တည်ဆောက်နိုင်သော Gas Engine/ Power barge/ Power Ship များဖြင့် စီမံကိန်း (၅)ခု စုစုပေါင်းဓာတ်အား (၁၀၄၀) မဂ္ဂါဝပ်ကို မြန်မာကျပ်ငွေဖြင့် ၅ နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဓာတ်အားဝယ်ယူနိုင်ရေး တင်ဒါခေါ်ယူခွင့်ပြုပါရန်ကိစ္စကို ၂၀-၆-၂၀၁၉ ရက်တွင် ကျင်းပပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၉) မှ သဘောတူပါကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ စီမံကိန်းများအတွက် ၂၈-၆-၂၀၁၉ ရက်တွင် တင်ဒါခေါ်ဆိုခဲ့ရာ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း အတွက် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. မှ တင်ဒါအောင်မြင်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်ခဲ့သည့် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. တို့အကြား နှစ်ဘက်ညှိနှိုင်းပြုစုထားပြီးဖြစ်သည့် ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase

Agreement - PPA ) မူကြမ်း အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက် ။ Power Purchase Agreement (PPA) မူကြမ်း (၁) အုပ်

ပြည်ထောင်စုဝန်ကြီး ( )
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ



Policy9\G\MOEE / Form 2019\MOEE-LH(Standard)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ် ၂၃၄၀
ရက်စွဲ ၂.၁၀.၁၉

GT/mm/1160

စာအမှတ်၊ MOEE-၂/(၆)/(င)/(ကျောက်ဖြူ)/(၁၆၂၁၈ )/၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ စက်တင်ဘာ လ ၃၀ ရက်

သို့

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

အကြောင်းအရာ။ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

၁။ ၂၀၂၀ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းနိုင်ရန် IPP/BOO စနစ်ဖြင့် အချိန်တိုအတွင်း တပ်ဆင်တည်ဆောက်နိုင်သော Gas Engine/ Power barge/ Power Ship များဖြင့် စီမံကိန်း (၅)ခု စုစုပေါင်းဓာတ်အား (၁၀၄၀) မဂ္ဂါဝပ်ကို မြန်မာကျပ်ငွေဖြင့် ၅ နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဓာတ်အားဝယ်ယူနိုင်ရေး တင်ဒါခေါ်ယူခွင့်ပြုပါရန်ကိစ္စကို ၂၀-၆-၂၀၁၉ ရက်တွင် ကျင်းပပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၉)မှ သဘောတူပါကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ စီမံကိန်းများအတွက် ၂၈-၆-၂၀၁၉ ရက်တွင် တင်ဒါခေါ်ဆိုခဲ့ရာ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. မှ တင်ဒါအောင်မြင်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်ခဲ့သည့် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. တို့အကြား နှစ်ဘက်ညှိနှိုင်းပြုစုထားပြီးဖြစ်သည့် ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase

လျှို့ဝှက်

Agreement – PPA ) မူကြမ်း အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာ ရပ်ခံအပ်ပါသည်။

ပူးတွဲလျက် ။ Power Purchase Agreement (PPA) မူကြမ်း (၁) အုပ်

ပြည်ထောင်စုဝန်ကြီး
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ

လျှို့ဝှက်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

စာအမှတ်၊ MOEE-၂/(၁၅)/(င)/(ကျောက်ဖြူ)/(၁၆၂၂၁)/၂၀၁၉

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ စက်တင်ဘာ လ ၂၀ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

၁။ ၂၀၂၀ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းနိုင်ရန် IPP/BOO စနစ်ဖြင့် အချိန်တိုအတွင်း တပ်ဆင်တည်ဆောက်နိုင်သော Gas Engine/ Power barge/ Power Ship များဖြင့် စီမံကိန်း (၅)ခု စုစုပေါင်းဓာတ်အား (၁၀၄၀) မဂ္ဂါဝပ်ကို မြန်မာကျပ်ငွေဖြင့် ၅ နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဓာတ်အားဝယ်ယူနိုင်ရေး တင်ဒါခေါ်ယူခွင့်ပြုပါရန်ကိစ္စကို ၂၀-၆-၂၀၁၉ ရက်တွင် ကျင်းပပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၉) မှ သဘောတူပါကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ စီမံကိန်းများအတွက် ၂၈-၆-၂၀၁၉ ရက်တွင် တင်ဒါခေါ်ဆိုခဲ့ရာ ကျောက်ဖြူ ဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. မှ တင်ဒါ အောင်မြင်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်ခဲ့သည့် Consortium of China National Technical Import & Export Corporation , V Power Group Holdings Ltd. and V Power Holdings Ltd. တို့အကြား နှစ်ဘက်ညှိနှိုင်းပြုစုထားပြီးဖြစ်သည့် ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase

Agreement – PPA ) မူကြမ်း အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲလျက် ။ Power Purchase Agreement (PPA) မူကြမ်း (၁) အုပ်

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(တင်မောင်ဦး၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

93(ဂ)
17/10
(13:45)

စာအမှတ် ၊ စက - ၁၄/ ၄ - ၁၂ / ၂၀၁၉ ( ၂၉ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ၊ အောက်တိုဘာလ ၁၄ ရက်

သို့

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ ။ သဘောထားမှတ်ချက် ပြန်ကြားပေးပို့ခြင်း

ရည် ညွှန်း ချက် ။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၃၀- ၉- ၂၀၁၉ ရက်စွဲပါစာအမှတ်၊ MOEE -၂/ (၁၇)/ (င)/ (ကျောက်ဖြူ)/ (၁၆၂၁၉)/ ၂၀၁၉

၁။ ၂၀၂၀ နွေရာသီတွင် တိုးတက်သုံးစွဲလာမည့် ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းနိုင်ရန် IPP/ BOO စနစ်ဖြင့် အချိန်တိုအတွင်း တပ်ဆင်တည်ဆောက်နိုင်သော Gas Engine/ Power barge/ Power Ship များဖြင့် စီမံကိန်း (၅) ခု စုစုပေါင်းဓာတ်အား (၁၀၄၀) မဂ္ဂါဝပ်ကို မြန်မာကျပ်ငွေဖြင့် ၅ နှစ်စာ PPA စာချုပ်ချုပ်ဆို၍ ဓာတ်အားဝယ်ယူနိုင်ရေးအတွက် တင်ဒါခေါ်ယူဆောင်ရွက်ခဲ့ရာ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် တင်ဒါအောင်မြင်ခဲ့သည့် Consortium of China National Technical Import & Export Corporation, V Power Group Holdings Ltd. and V Power Holdings Ltd. နှင့်လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းတို့အကြား နှစ်ဘက်ညှိနှိုင်းပြုစုထားပြီးဖြစ်သည့် ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနက ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း) နှင့်ပတ်သက်၍ ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန်မရှိ သဘောတူညီပါကြောင်းနှင့် ဓာတ်အားဝယ်ယူရေးစာချုပ်အရ လုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရန်လိုအပ်သည့်ပစ္စည်းကိရိယာများ တင်ပို့တင်သွင်းခြင်းနှင့် ပြန်လည်တင်ပို့ခြင်းများ ဆောင်ရွက်လာပါက စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် သတ်မှတ်ထုတ်ပြန်ထားသော ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပူးပေါင်းဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( )
( အောင်စိုး ၊ အမြဲတမ်းအတွင်းဝန် )

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ စဘ/ဘဏ္ဍာ-၂/၂/ ၂၆၄ (၄၅၂၅ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

သို့

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ ကျောက်ဖြူဓာတ်အားပေးစက်ရုံစီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ

ရည် ညွှန်း ချက်။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၃၀-၉-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ MOEE-၂/(၁၈)/(င)/(ကျောက်ဖြူ)(၁၆၂၂၀)/၂၀၁၉

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် တင်ဒါအောင်မြင်ခဲ့သည့် Consortium of China National Technical Import & Export Corporation,V Power Group Holdings Ltd. and V power Holdings Ltd. တို့အကြားချုပ်ဆိုမည့် ကျောက်ဖြူဓာတ်အားပေးစက်ရုံ စီမံကိန်း၏ ဓာတ်အားဝယ်ယူရေးစာချုပ် (Power Purchase Agreement -PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ ရည်ညွှန်းပါ စာဖြင့် ညှိနှိုင်းလာသည့် ကိစ္စဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စာချုပ်မူကြမ်းတွင် Definitions and Interpretations နှင့်ပတ်သက်ပြီး ဖော်ပြထားခြင်း မရှိ၍ Section တစ်ခုအနေဖြင့် ထည့်သွင်းဖော်ပြသင့်ပါကြောင်းနှင့် မူကြမ်းပါ အပိုဒ် (၃)၊ အပိုဒ်ခွဲ (a) တွင်ဖော်ပြထားသည့် EPGE မှ တာဝန်ယူရ

မည့်ကိစ္စများနှင့်ပတ်သက်၍ အမှန်တကယ်ဆောင်ရွက်နိုင်ခြင်း ရှိ/မရှိ သက်ဆိုင်ရာဝန်ကြီးဌာနအနေဖြင့် စိစစ်ဆောင်ရွက်သွားရန် ဖြစ်ပါသည်။

(ခ) စာချုပ်(မူကြမ်း)၏ Article 3(b)(ii) တွင် ဖော်ပြပါရှိသော စာချုပ်ဝင်ကုမ္ပဏီမှ တာဝန်ယူဆောင်ရွက်မည့် အချက်တွင် Annex(2)ဟုပါရှိသော်လည်း Annex(2) တွင် ပါရှိရမည့်အချက်များအား ဖော်ပြမထားပါသဖြင့် စာချုပ်အား လက်မှတ်ရေးထိုးခြင်းမပြုမီတွင် ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။

(ဂ) စာမျက်နှာ(၃)အပိုဒ်(၃)အပိုဒ်ခွဲ (a)(iii) တွင် Visa ကိစ္စနှင့် အပိုဒ်ခွဲ (a)(v) တွင် ဌာနမှ ကျခံရမည့် စရိတ်တို့ကို ဆောင်ရွက်ရာတွင် Myanmar Laws and Regulation အရ ဆောင်ရွက်ရန်ဟု ထည့်သွင်းဖော်ပြရန်ဖြစ်ပါသည်။

(ဃ) စာမျက်နှာ (၅)အပိုဒ်(၃)အပိုဒ်ခွဲ(b)(Vi) တွင် ကုမ္ပဏီသည် အဆိုပါ စီမံကိန်းမှ ၂၃၀ ကေဗွီ အဝင်လိုင်းအတွက် ၂၃၀ ကေဗွီ ကျောက်ဖြူခွဲရုံသစ်တည်ဆောက်ပြီးစက်ရုံမှ လိုင်းဆွဲရမည်ဖြစ်ရာ လိုင်းသစ်ဆွဲရမည့် အကွာအဝေးအတိုင်းအတာနှင့် ခွဲရုံသစ်တို့၏ စံချိန်စံညွှန်းတို့ကိုလည်း သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ ဖြစ်စေရန် ကြိုတင်ညှိနှိုင်းထားရန်ဖြစ်ပါသည်။

(င) စာချုပ်(မူကြမ်း)၏ အပိုဒ် ၃ " စည်းမျဥ်းစည်းကမ်းများ "၊ အပိုဒ်ခွဲ(ခ)"ကုမ္ပဏီ၏ တာဝန်ဝတ္တရားများ" ခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲငယ် (၃)ပါ အကောက်ခွန်ဆိုင်ရာကိစ္စရပ်များနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံမှ သတ်မှတ်ပြဋ္ဌာန်းထားသော တည်ဆဲအခွန်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဥ်းစည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပါသည်။

(စ) စာမျက်နှာ (၁၀)အမှတ်စဉ်(၅)အရ ကုမ္ပဏီအနေဖြင့် စီးပွားဖြစ်စတင်ပြီးပါက ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်ကို (၁၀)ရက်အတွင်း တင်ပြရမည်ဖြစ်ပြီး ပျက်ကွက်လျှင် ကုမ္ပဏီသည် ရက်ပေါင်း(၃၀)အထိ ဒဏ်ကြေးအဖြစ်နေ့စဉ် ကျပ် ၆၀,၀၀၀/(ကျပ်ခြောက်သောင်းတိတိ)ပေးဆောင်ရမည်ဟုပါရှိရာ တင်ပြရမည့် လုပ်ငန်းအစီအစဉ်ကိုလည်း တိကျရှင်းလင်းစွာ ဖော်ပြ၍ ထည့်သွင်းချုပ်ဆိုရန်ဖြစ်ပါသည်။

(ဆ) စာမျက်နှာ(၈) အပိုဒ်(၄)၊ အပိုဒ်ခွဲ(c) တွင် လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေး လုပ်ငန်းက ပေးချေမှုများရှိပါသဖြင့် နောက်ဆက်တွဲ(၅)ပေးချေမှုများနှင့် ဓာတ်အားခ နှုန်းထားများခေါင်းစဉ်ပါ အာမခံရယူရမည့် ဓာတ်အားပမာဏများကို နိုင်ငံတော် နှင့် ပြည်သူတို့၏ ဆုံးရှုံးနစ်နာမှုအနည်းဆုံးဖြစ်စေရန် စာချုပ်မချုပ်ဆိုမီ စိစစ် ရန်လိုအပ်ပါသည်။

(ဇ) စာချုပ်မူကြမ်းပါ အပိုဒ် (၄)၊ အပိုဒ်ခွဲ (d) တွင် ဖော်ပြထားသည့် EPGE မှ ငွေပေး ချေရမည့်ကိစ္စရပ်များနှင့်ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာနအနေဖြင့် သတိပြု ဆောင်ရွက်သွားရန်ဖြစ်ပါသည်။

(ဈ) စာချုပ်(မူကြမ်း)၏ Article 5 တွင် "take or pay" နှင့်စပ်လျဉ်း၍ ဖော်ပြ ထားပါသည်။ သတ်မှတ်ထားသည့်ကာလအတွက် သတ်မှတ်ထားသည့် လျှပ်စစ် ဓာတ်အားကို ဝယ်ယူရမည်ဖြစ်ပြီး ပြည့်မီအောင် ဝယ်ယူခြင်းမရှိပါက လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းက ပြည့်မီအောင် ဖြည့်ဆည်းပေးရမည့်ကိစ္စ ဖြစ်သဖြင့် ဆောင်ရွက်နိုင်ခြင်း ရှိ/မရှိကို နိုင်ငံတော်အတွက် နစ်နာမှုမရှိအောင် စိစစ်ရန် ဖြစ်ပါသည်။

(ည) စာချုပ်မူကြမ်းပါ အပိုဒ် (၆)၊ အပိုဒ်ခွဲ (a) တွင် " This agreement shall be effective from the date of this agreement" ဟူ၍ဖော်ပြပါရှိရာ Effective date သည် မည်သည့်နေ့မှစတင်၍ အကျိုးသက်ရောက်မည်ဖြစ်ကြောင်း ရှင်းလင်းစွာ ရေးသားဖော်ပြရန်ဖြစ်ပါသည်။

(ဋ) စာမျက်နှာ(၁၅) အပိုဒ်(၁၀) အပိုဒ်ခွဲ(a)တွင် ဖော်ပြထားသည့် သက်တမ်း မကုန်ဆုံးမီ ရပ်စဲပါက လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းမှ ပေးလျော်ရန် ကိစ္စရပ်ကိုစာချုပ်တွင် ထည့်သွင်းဖော်ပြရန်ဖြစ်သော်လည်း (ပေးချေရန်တွက် သည့် Formula)အရ ပေးလျော်ရမည့် ပမာဏ များကို အနည်းဆုံးဖြစ်စေနိုင်ရန် နှင့် ပေးလျော်ရမည့်ကိစ္စရပ်မဖြစ်ပေါ်ရေးကို ဌာနအနေဖြင့် ကြိုတင်စီမံရန် ဖြစ်ပါသည်။

(ဌ) စာချုပ်မူကြမ်းပါ အပိုဒ် (၁၀)၊ အပိုဒ်ခွဲ (a) တွင် စာချုပ်သက်တမ်းကာလ မကုန်ဆုံးမီစာချုပ်ရပ်စဲပါက EPGE မှလျော်ကြေးပေးရမည်ဟူ၍ ဖော်ပြပါရှိရာ နိုင်ငံတော်အနေဖြင့်နစ်နာမှုမရှိစေရန် ပြန်လည်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

(ဍ) Termination (e) i အရ နှစ်ဦးနှစ်ဖက် သဘောတူညီမှုသာ စာချုပ်ရပ်စဲမည်ဆိုသည့် အချက်နှင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း၏ ပျက်ကွက်မှုကြောင့် စာချုပ်ရပ်စဲခဲ့ပါက ပုံသေနည်းဖြင့်တွက်ချက်၍ လျော်ကြေးပေးချေရမည်ဟူသည့် အချက်များအပေါ်တွင် နိုင်ငံတော်အနေဖြင့် နစ်နာမှုမရှိစေရန် ပြန်လည်ညှိနှိုင်းရန်ဖြစ်ပါသည်။

(ဎ) စာချုပ်မူကြမ်းပါ အပိုဒ် (၁၂)၊ အပိုဒ်ခွဲ (a) တွင် " The term Force Majeure means any events which are beyond **the reasonable control** of either party or any of the company's LNG supplier............" ဟူ၍ စာချုပ်ဝင်တစ်ဦးဦး သို့မဟုတ် LNG supplier ကုမ္ပဏီမှ မထိန်းချုပ်နိုင်သော အခြေအနေတစ်ရပ်ရပ်ကို Force Majeure ဟု သတ်မှတ်ထားခြင်းနှင့် အပိုဒ် (၁၂)၊ အပိုဒ်ခွဲ (a) (i) တွင် နိုင်ငံရေးဆိုင်ရာ မတည်ငြိမ်မှု များကို (**Political Force Majeure**) ကို Force Majeure အဖြစ်သတ်မှတ်ထားခြင်းအပေါ် ဝန်ကြီးဌာနအနေဖြင့် လက်ခံနိုင်ခြင်း ရှိ/ မရှိ နှင့် နိုင်ငံတော်အနေဖြင့် နစ်နာမှုမရှိစေရန် စိစစ်ဆောင်ရွက်သွားရန်ဖြစ်ပါသည်။

(ဏ) စာချုပ်မူကြမ်းပါ အပိုဒ် (၁၂)၊ အပိုဒ်ခွဲ (g) တွင် "In case this agreement is terminated due to the prolonged Political Force Majeure, the **compensation shall be the same with termination due to EPGE default** " ဟူ၍ နိုင်ငံရေးဆိုင်ရာမတည်ငြိမ်မှုများ (**Political Force Majeure**) ကြာရှည်ဖြစ်ပွားခြင်းကြောင့် စာချုပ်ရပ်စဲပါက EPGE ၏ ပျက်ကွက်မှုကြောင့် လျော်ကြေး ပေးချေရမည့်ပုံစံအတိုင်း လျော်ကြေးပေးချေရမည်ဖြစ်ကြောင်း ဖော်ပြထားသဖြင့် နိုင်ငံတော်အနေဖြင့် နစ်နာမှုမရှိစေရန် ဝန်ကြီးဌာနအနေဖြင့် ပြန်လည်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

(တ) စာချုပ် (မူကြမ်း) ၏ Article 17 တွင် This Agreement Shall not be amended, save with the Written consent of both the Parties" ဟု ဖော်ပြထားပါသဖြင့် သဘောတူစာချုပ်အား ပြင်ဆင်၍မရသည့်သဘောသက်ရောက်နေပါသောကြောင့် စာချုပ်ပါ အချက်အလက်များအား နိုင်ငံတော်အတွက် နစ်နာမှုမရှိစေရေး ပြန်လည်စိစစ်ရန်ဖြစ်ပါသည်။

(ထ) အဆိုပါ စီမံကိန်း၏ စာချုပ်တွင် ရင်းနှီးမြှုပ်နှံမှုပမာဏ၊ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ၊ စာချုပ်ပါအဖွဲ့ဝင်များ၏ တာဝန်နှင့်ဝတ္တရားများ၊ ပျက်စီးဆုံးရှုံးနိုင်ခြေများမှုဝေကျခံခြင်းနှင့် လိုအပ်ပါက စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်းတို့အတွက်ပါ ထည့်သွင်းချုပ်ဆိုရန်ဖြစ်ပါသည်။

(ဒ) ဓာတ်အားခနှုန်းထားမှာ တစ်ယူနစ်လျှင် US Cent ၁၃ နှုန်းဖြင့် တွက်ချက်ပြီး မြန်မာကျပ်ငွေဖြင့် တန်ဘိုးသင့်ပေးချေရာတွင် အချိန်မီပေးချေနိုင်ခြင်းမရှိပါက နောက်ကျဒဏ်ကြေးအဖြစ် တစ်ရက်လျှင် undisputed amount ပေါ်တွင် ၀.၀၂ % ပေးဆောင်ရမည်ဖြစ်ပါသဖြင့် နောက်ကျမှုမရှိစေရန် ဆောင်ရွက်ရမည်ဖြစ်ပါသည်။

(ဓ) Liquefied Natural Gas (LNG) တင်သွင်း၍ စက်ရုံတည်ဆောက်ပြီး လျှပ်စစ်ဓာတ်အားထုတ်လုပ်ရာတွင် စာချုပ်သက်တမ်းပြီးဆုံးပြီး စာချုပ်အသစ်ပြန်လည်ချုပ်ဆိုနိုင်မှု မရှိခဲ့ပါက အဆိုပါစက်ရုံများ၏ Demolish အတွက် စီမံထားရှိမှုများကို ထည့်သွင်းချုပ်ဆိုရန်ဖြစ်ပါသည်။

(န) တင်ဒါအောင်မြင်သည့် ကုမ္ပဏီသည် နိုင်ငံတော်သမ္မတရုံး၏ ၁၀-၄-၂၀၁၇ ရက်စွဲပါ ညွှန်ကြားချက်အမှတ် ၁/၂၀၁၇ တွင် ဖော်ပြပါရှိသည့် လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်ထားသည့် ကုမ္ပဏီဖြစ်ရပါမည်။

(ပ) ကျောက်ဖြူဓာတ်အားပေးစက်ရုံ စီမံကိန်း၏ ဓာတ်အားဝယ်ယူရေး စာချုပ်ချုပ်ဆိုနိုင်ရေးနှင့်စပ်လျဉ်း၍ နိုင်ငံတော်သမ္မတရုံး၏ ၁-၆-၂၀၁၈ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၄၁/၂၀၁၈) ဖြင့် ထုတ်ပြန်ခဲ့သော သဘောတူစာချုပ်

များချုပ်ဆိုရာတွင် လိုက်နာဆောင်ရွက်ရမည့် လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း၏ Guaranteed Electric Energy for High season and low season အရ ပေးချေရမည့် ဓာတ်အားဝယ်စရိတ်များနှင့် Capacity Charges and Fuel Charges စရိတ်များသည် သက်ဆိုင်ရာဘဏ္ဍာရေးနှစ်၏ အရအသုံးခန့်မှန်းခြေငွေစာရင်းတွင်လျာထားပြီး ပြည်ထောင်စုလွှတ်တော်၏ အတည်ပြုချက်ရရှိမှသာ သုံးစွဲရမည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

31/10/2019

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ထွန်းထွန်းနိုင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို-

စီမံကိန်းရေးဆွဲရေးဦးစီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
ငွေတိုက်ဦးစီးဌာန
ပြည်တွင်းအခွန်များဦးစီးဌာန
အကောက်ခွန်ဦးစီးဌာန
ရုံးလက်ခံ

